### ၃။ ဆောင်ရွက်ရမည့် ဥပဒေသ။

ဤအငှားစာချုပ်ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ စည်းကမ်းများ ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ အငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

### ၄။ ငှားရမ်းသည့်အချိန်ကာလ။

သစ်အချောထည်များနှင့် ပရိဘောဂများထုတ်လုပ်သည့်စက်ရုံတည်ထောင်ရန်အတွက် ငှားရမ်းမည့် ကာလမှာ ကနဦး (၁၀)နှစ် ဖြစ်ပြီး၊ (၁၀)နှစ်ပြည့်သောအခါတွင်၊ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့်၊ နှစ်ကြိမ် သက်တမ်း တိုးမြှင့်နိုင်သည်။

### ၅။ ငှားရမ်းခ။

(က) ငှားရမ်းခနှုန်းမှာတစ်နှစ်လျှင် ကျပ်(၁,၂၀၀,၀၀၀/-) (တစ်ဆယ့်နှစ်သိန်း) ကို အငှားချထား ခံရသူကအ ငှားချထားသူ သို့ ပေးချေရမည်။

(ခ) နှစ်စဉ် ငှားရမ်းခကို ငှားရမ်းခ စေ့ရောက်သောနေ့မှ တစ်လအတွင်း တစ်နှစ်အတွက် ကြိုတင် ပေးချေ သွားရမည်။

(ဂ) ငှားရမ်းခကို အစိုးရအဖွဲ့၏ ညွှန်ကြားချက်နှင့်အညီ ငါးနှစ်တစ်ကြိမ်၊ ပြီးခဲ့သော ငါးနှစ်တာ ကာလ ငှားရမ်းခ နှုန်းထားများ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း) ထက် မပိုစေဘဲ ညှိနှိုင်း ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။

### ၆။ အငှားစာချုပ်၏ အကျိုးသက်ရောက်မှုနှင့် ကာလ။

(က) ဤအငှားစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခံရသူတို့ ဤစာချုပ်ပေါ်တွင် လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

(ခ) ငှားရမ်းခြင်းကာလကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်း တရားဝင်စတင်သည့်နေ့ သို့မဟုတ် စာချုပ်လက်မှတ်ရေးထိုးပြီး (၃)လပြည့်သည့်နေ့၊ ထိုနှစ်ရပ်အနက်၊ စောသည့်ရက်မှ စတင်ရေတွက်ရမည်။

## ၇။ စာချုပ်သက်တမ်းတိုးခြင်း။

စာချုပ်သက်တမ်းတိုးခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်နိုင်သည်။

(က) အငှားချထားခံရသူသည် စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် ဆက်လက် ငှားရမ်းလိုပါက၊ စာချုပ်သက်တမ်း မကုန်ဆုံးမီ၊ အနည်းဆုံး (၃)လ ကြိုတင်၍ ငှားရမ်းလိုသည့် ကာလကို ဖော်ပြ၍ အငှားချထားသူသို့ တင်ပြရမည်။

(ခ) အငှားချထားသူက ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းသည့်ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီမှုကို ရယူပြီး ဆက်လက်ငှားရမ်းခွင့် ရှိစေရမည်။

(ဂ) ငှားရမ်းခြင်းကာလ ကုန်ဆုံးသောနေ့တွင် အဆိုပါမြေကွက်ပေါ်တွင်တည်ရှိသော အဆောက်အအုံနှင့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများနှင့် အဆောက်အဦးတွင် တပ်ဆင်ထားသော ပစ္စည်းများမှအပ ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံးကို အငှားချထားခံရသူက ပြောင်းရွှေ့ပိုင်ခွင့်ရှိသည်။

## ၈။ "အငှားချထားခံရသူ" ၏ တာဝန်များ။

"အငှားချထားခံရသူ" က "အငှားချထားသူ" အား အောက်ပါများအတွက် ဤ"အငှားစာချုပ်" အရ ဆောင်ရွက်ပေးရန် တာဝန်များ ပေးထားပါသည်။

(က) "ငှားရမ်းခ"ကို အထက်စာအပိုဒ်(၅)တွင် ပါရှိသည့်အတိုင်းပေးချေသွားရန်နှင့် မြေခွန်မှအပ အခြားသော ဝန်ဆောင်မှုပေးသည့် သက်ဆိုင်ရာ တာဝန်ရှိ အာဏာပိုင် အဖွဲ့အစည်းများက ကောက်ခံသည့် အခများအတွက် တာဝန်ယူရန်၊

(ခ) အငှားချထားသည့် မြေကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော်လည်းကောင်း၊ နိုင်ငံသားများကိုဖြစ်စေ၊ နိုင်ငံခြားသားကိုဖြစ်စေ၊ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း သို့မဟုတ် လွှဲအပ်ခြင်းတို့ကို မပြုလုပ်ရန်၊

(ဂ) ငှားရမ်းထားသော မြေပေါ်တွင် သစ်အချောထည်နှင့် ပရိဘောဂစက်ရုံ တည်ထောင်ဆောက်လုပ်ရေးအတွက်သာ အသုံးချရန်၊

(ဃ) ငှားရမ်းမြေပေါ်ရှိ သစ်အချောထည်နှင့် ပရိဘောဂစက်ရုံနှင့် သက်ဆိုင်သောအရာများပေါ်တွင် "အငှားချထားခံရသူ" ၏ ဆောင်ရွက်ချက်များအားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီဖြစ်ကြောင်း တာဝန်ယူကတိပြုရန်၊

(င) ရေဆိုးများ မရှိစေရေးနှင့် စွန့်ပစ်စနစ် တည်ဆောက် အကောင်အထည်ဖော်ရေးနှင့် မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်း ဥပဒေနှင့် ညွှန်ကြားချက်များနှင့် အညီ၊ ဒေသအလိုက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် အစီအမံများပြုလုပ်ရန်၊

(စ) ဤအငှားသဘောတူစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင် အက်ဥပဒေအရ မှတ်ပုံတင်ရမည်။ အငှားသဘောတူစာချုပ်ကို မှတ်ပုံတင်ခြင်းဖြင့် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်ကို အငှားချထားခံရသူက ပေးဆောင်ရမည်။

(ဆ) ငှားရမ်းခများကို သတ်မှတ်နှုန်းထားနှင့် သတ်မှတ်သော နည်းလမ်းများအတိုင်း အတိအကျ ပေးချေရမည်။

(ဈ) သက်ဆိုင်ရာ အာဏာပိုင်များထံမှ လိုအပ်သော ခွင့်ပြုချက်များနှင့် သစ်အချောထည်နှင့် ပရိဘောဂစက်ရုံ တည်ဆောက်ရန် အသုံးချမှုအား အငှားချထားခံရသူထံသို့ လွှဲပြောင်းပေးအပ်ခြင်းအတွက် လိုအပ်သော ခွင့်ပြုချက်များ ရယူပေးရန်။

(ည) ငှားရမ်းသည့် မြေပြင်ဆင်စရိတ်များကို အငှားချထားစဉ် ကာလအတွင်း အငှားချထားခံရသူက မိမိ၏စရိတ်ဖြင့် တာဝန်ယူပြင်ဆင်ရမည်။

## ၉။ "အငှားချထားသူ" ၏ တာဝန်များ။

"အငှားချထားခံရသူ" က ဤ"အငှားစာချုပ်" ပါအတိုင်း ငှားရမ်းခများပေးခြင်းနှင့် ၎င်း၏ကတိအာမခံချက်များကိုဆောင်ရွက်ခြင်းနှင့် နာခံခြင်းတို့ကို လိုက်နာသဖြင့် "အငှားချထားသူ" ကလည်း "အငှားချထားခံရသူ"အား အောက်ပါအတိုင်း ဆောင်ရွက်ပေးရန် တာဝန်ယူပါသည်။

(က) "အငှားချထားခံရသူ" သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထားသော ပစ္စည်းများကို အေးငြိမ်းချမ်းသာစွာ လက်ဝယ်ထားပိုင်ခွင့် ရှိစေရေးအတွက် "အငှားချထားသူ" ကသော်လည်းကောင်း "အငှားစာချုပ်" ကို ကိုယ်စားပြုသည်ဟု တရားဝင်ဖေါ်ထုတ်နိုင်သူကသော်လည်းကောင်း၊ ဤ "အငှားစာချုပ်" အတည်ဖြစ်နေသည့် ကာလအတွင်း၊ ဝင်ရောက်စွက်ဖက်ခြင်း သို့မဟုတ် မည်သည့်ပုံစံ သဘာဝအရမဆို အနှောင့်အယှက်ဖြစ်ခြင်းများ မရှိစေရန်။

(ခ) မြေခွန်ကိုပေးဆောင်ရန်။

## ၁၀။ "အငှားစာချုပ်" ရုပ်စဲခြင်း။

(က) ဤ"အငှားစာချုပ်"ကို အောက်ဖေါ်ပြပါ အခြေအနေအဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပေါ်ပါက ရုပ်စဲနိုင်သည်။

၁။ (က) လုပ်ငန်းတွင်ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) အငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှစာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင် မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ (၆)လ ထက်ပိုမို ဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည် ဖေါ်နိုင်စွမ်း မရှိခြင်း၊

(င) "အငှားချထားသူ" က သော်လည်းကောင်း၊ "အငှားချထားခံရသူ" က သော်လည်းကောင်း၊ အငှားစာချုပ်ကို "မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ " အခန်း(၁၁) ပုဒ်မ ၃၉ နှင့် ၄၀ တို့အရ ရုပ်စဲလိုကြောင်း စာဖြင့် (၃)လ ကြိုတင်၍ အခြားတစ်ဖက်သို့ အကြောင်းကြားလာသောအခါ "မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်" သို့ တင်ပြပြီး ကော်မရှင်၏ သဘောတူညီချက် ရလျှင် လည်းကောင်း၊

(စ) "အငှားချထားခံရသူ" သည် ဤ"အငှားစာချုပ်" ချုပ်ဆိုပြီးနောက် ၁၂(တစ်ဆယ့်နှစ်) လ ကာလအတွင်း လုပ်ငန်းကို စတင်မှု မပြုလျှင်သော်လည်းကောင်း၊

(ဆ)"အငှားချထား ခံရသူ" သည် ဤ "အငှားစာချုပ်" ပါ သဘောတူညီချက် များကို ဆောင်ရွက်ရန်သို့မဟုတ် လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် ခိုင်လုံသောအကြောင်းပြချက်များ မပြလျှင်သော်လည်းကောင်း၊

၂။ သို့သော်ငြားလည်း "အငှားချထားခံရသူ" သည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့်ပြန်လည်တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက်ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခြွင်းချက်အဖြစ်သက်သာခွင့် ရရှိစေနိုင်သည်။ ဤအငှားစာချုပ်တွင် ပါရှိသော ပြဋ္ဌာန်း သတ်မှတ်ချက် များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကို ရုပ်စဲလိုပါက၊ရုပ်စဲလိုကြောင်းအကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ ပေးပို့ အသိပေးရမည်။

(ခ) အကယ်၍ ရုပ်စဲခြင်း အထမြောက်ပါက "အငှားချထားသူ" သည် "အငှားစာချုပ်" တွင် ပါဝင်သော စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ငှားရမ်းသည့် မြေအပေါ် ပြန်လည်ဝင်ရောက် လက်ရှိထားရှိရန် လုပ်ပိုင်ခွင့်ရှိရမည်။ ထိုအခါတွင် ဤ "အငှားစာချုပ်" သည် ရုပ်ဆိုင်း၍ အဆုံးသတ်သွားရမည်။

## ၁၁။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်။

ဤ "အငှားစာချုပ်" ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည် ဖေါ်ခြင်းတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအာဏာပိုင်အဖွဲ့အစည်းများထံမှလိုအပ်သည့်သဘောတူညီချက် ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှုအပေါ်တွင် တည်ရှိပါသည်။

## ၁၂။ လွှမ်းမိုးသည့်ဥပဒေ။

ဤ"စာချုပ်"သည် မြန်မာနိုင်ငံတော်ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊လုပ်ထုံးလုပ်နည်း၊အမိန့်ညွှန်ကြားချက်များနှင့်အညီသာ ဖြစ်စေရမည်။ ထို့အပြင်စာချုပ်နှင့် စပ်လျဉ်းသော ကိစ္စအရပ်ရပ်တွင် မြန်မာနိုင်ငံတရားရုံးများ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

## ၁၃။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ။

အကယ်၍ စာချုပ်ဝင် တစ်ဦးဦးက စာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဦး၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကို သက်ရောက်စေသော လူတို့ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ် ဆောင်ရွက်မှုဖြင့် တားဆီး မရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်

ကြောင်းကို ဖြစ်ပေါ်သည့် အချိန်မှ (၁၄) ရက် အတွင်း အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ အခြားတစ်ဖက် ကလည်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ်ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့် တာဝန်မျှ မရှိစေရ။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက်သည့် ကာလကို စာချုပ် သက်တမ်းကာလမှထုတ်နုတ်ရန် သဘောတူကြပါသည်။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဆိုသည်မှာ သဘာဝ ဘေးဒုက္ခများ၊ ငလျှင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊သူပုန်ထခြင်းများ၊အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး၊ စာချုပ်ဝင်၏ထိုက်သင့်သောဂရုပြုမှု၊ ခွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရပဲ ကျော်လွှားရန်မတတ်စွမ်းနိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

## ၁၄။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း။

အကယ်၍ ဤအငှား သဘောတူစာချုပ်ပါ အချက်အလက်များနှင့် ပတ်သက်ပြီး၊ အကောင်အထည်ဖေါ်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ် လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွါးမှုများ ဖြစ်ပေါ်လာပါက သဘောတူ စာချုပ်တွင် လက်မှတ် ရေးထိုးထားသည့် နှစ်ဦး နှစ်ဖက်စလုံးမှ ညှိနှိုင်း ဆွေးနွေးခြင်းဖြင့် အငြင်းပွါးမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိ လူကြီးတစ်ဦးစီ ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။နှစ်ဦးနှစ်ဖက်မှတင်မြှောက်ထားသောခုံသမာဓိလူကြီးများမှ အငြင်းပွါးမှုများကို၊ ပြေလည်အောင် ဖြေရှင်း ပေးနိုင်ခြင်း မရှိခဲ့ပါက အဆိုပါ ခုံသမာဓိ လူကြီးများ သဘောတူသော ဒိုင်လူကြီး၏ အဆုံး အဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီးများ၏ အဆုံးအဖြတ်မှာ ၁၉၄၄ ခုနှစ်၊အနုညာတ စီရင်ဆုံးဖြတ်ခြင်း၊အက်ဥပဒေ (၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄) အရဖြစ်စေ၊ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ပြည်ထောင်စုမြန်မာနိုင်ငံတွင်ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို၊အမှုရှုံးသည်ဘက်မှ ကျခံပေးဆောင်ရမည်။

## ၁၅။ အကြောင်းကြားစာ။

ဤ စာချုပ်နှင့် ပက်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖေါ်ပြပါ လိပ်စာများ အတိုင်း မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် စာတိုက်မှ မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့် ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ဆက်သွယ် ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူ စာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်း သော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့်အခြားလိပ်စာဖြင့်သော်လည်းကောင်း၊ဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ –

(က)"အငှားချထားသူ" (၁)အမည် – ဦးတင်မောင်ဝင်း (၁၂/ကတတ(နိုင်)၀၂၁၆၀၇)

(၂)လိပ်စာ – အမှတ်–၃၊ မဂ္ဂင်လမ်းနှင့်မိုးကောင်းလမ်းဒေါင့် ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

(၃)ဖုံးအမှတ် –

(၄)ဖက်စ်နံပါတ် –

(၅)တဲလက်နံပါတ် –

(ခ)"အငှားချထားခံရသူ" (၁)အမည် – ဦးမျိုးခင်(ခ)ဦးမျိုးဟိန်း (၇/ပမန(နိုင်)၁၀၀၅၇၇) အုပ်ချုပ်မှုဒါရိုက်တာ

(၂)လိပ်စာ – ခိုင်ဆုသူစက်မှုကုမ္ပဏီလီမိတက် အမှတ်–၃၅၇၊ ပြည်သာယာလမ်း၊ ၁၆/၃ ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။

(၃)ဖုံးအမှတ် –

(၄)ဖက်စ်နံပါတ် –

(၅)တဲလက်နံပါတ် –

ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီး ဖြစ်ကြောင်း အကြောင်းပြန်ကြားစာ ရရှိပြီးမှသာလျှင် ပေးပို့ခြင်း ကိစ္စ ပြီးမြောက်ပြီး ဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှ လိပ်စာ အပြောင်းအလဲ ရှိပါက စာဖြင့် ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

## ၁၆။ ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။

ဤ "ငှားရမ်း သဘောတူကာလ" အတွင်း ငှားရမ်းမှု ပြုလုပ်ထားသော မြေနေရာတွင် မမျှော်မှန်းဘဲ၊ ငှားရမ်းမြေမှထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်နှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး "အငှားချထားသူ"သည်၊ သက်ဆိုင်ရာ မြန်မာ နိုင်ငံတော်အစိုးရ အဖွဲ့အစည်းများသို့ အကြောင်းကြား တင်ပြလွှဲပြောင်းပေးရမည်ဖြစ်သည်။

## ၁၇။ စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း။

"အငှားစာချုပ်"တွင် မဖော်ပြမိခဲ့သော အချက်အလက် သို့မဟုတ် အခြေအနေ တစ်ရပ်ပေါ်ပေါက် ပြီး၊ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦး နှစ်ဖက်တို့ ညှိနှိုင်းကြပြီး၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ရယူလျက် စာချုပ်၏ အချက်အလက်နှင့် သတ်မှတ်ချက် များကို လိုအပ်ချက်အရ ပြင်ဆင် ညှိနှိုင်းကြရမည်။

## ၁၈။ စာချုပ်၏ တစ်စုတစ်ပေါင်းတည်း အစိတ်အပိုင်း။

ဤ "အငှားစာချုပ်" သည် ယင်း၏ နောက်ဆက်တွဲ များနှင့် မြေပုံများသည် ဤစာချုပ်၏ တစ်စုတစ်ပေါင်းတည်း အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

## ၁၉။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း။

သစ်အချောထည်နှင့် ပရိဘောဂပစ္စည်းများ ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရန် တာဝန်ရှိသည်။ "အငှားချထားခံရသူ" သည် လေ၊ ရေ၊ မြေနှင့် ပတ်ဝန်းကျင်ကို ထိန်းသိမ်း၍ လိုအပ်သော ဆောင်ရွက်မှုများ၊ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝပတ်ဝန်းကျင်ကို အကာအကွယ်ပေးရမည်။ ၎င်းတို့၏ အစိတ်အပိုင်းပေါ်တွင် ဆောင်ရွက်မှု၊ လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့်၊ မည်သည့်လျှော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ ။ "အငှားချထားခံရသူ" ကသာ ကျခံပေးချေရမည်။

## ၂၀။ အထွေထွေ

ဤသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသောအချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ်ဖြစ်နေခြင်းများ ဖြစ်ပေါ်လာပါက ဤသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသော အချက်အလက်များကိုသာ အတည်ဖြစ်သည်ဟု မှတ်ယူရမည်။ ဖော်ပြပါအချက်အလက်များကို သိရှိသဘောပေါက်နားလည်ပြီး ဖြစ်သည့်အလျောက် ဤစာချုပ်သည် ယခင်က အချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကိုလွှမ်းမိုးသည်။ စာချုပ်ဝင် နှစ်ဦး နှစ်ဖက်တို့သည် ဤစာချုပ်အထက်တွင် ဖော်ပြထားသော ရက်စွဲတွင် မိမိတို့ကိုယ်တိုင် ဖတ်ရှု နားလည်သဘောပေါက်၍ အောက်ပါ အသိသက်သေများရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| **လက်မှတ်** | **လက်မှတ်** |
| | |
| ဦးတင်အောင်ဝင်း | ဦးမျိုးခင်(ခ)ဦးမျိုးဟိန်း |
| (၁၂/ကတတ(နိုင်)၀၂၁၆၀၇) | အုပ်ချုပ်မှုဒါရိုက်တာ |
| | ခိုင်ဆုသူစက်မှုကုမ္ပဏီလီမိတက် |
| **"အငှားချထားသူ"** | **"အငှားချထားခံရသူ"** |

**<u>အသိသက်သေများ</u>**

________________ ________________

________________ ________________

________________ ________________

ရန်ကုန်မြို့တော်    **အိုးအိမ်ပုံစံ**

အကွက် - ၂၂

........[illegible]........မြို့နယ် လူနေရပ်ကွက်အမှတ်........[illegible]........

မြေတိုင်းရပ်ကွက်အမှတ်........[illegible]........မှ မြေကွက်အမှတ်........၂၂........၏မြေပုံ

၁-လက်မလျှင် ၁၀၀ ပေစကေး




ရည်ညွှန်းချက်

........[illegible]........

စတုရန်းပေ........[illegible]........

ဧက........[illegible]........

မြေတိုင်း(၄)    မြေတိုင်း(၃)    မြေတိုင်း(၂)

ဦးစီးအရာရှိ
မြေတိုင်းဌာနခွဲ
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

## ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ

အကွက်စိတ် - ၂၂

လှိုင်သာယာ မြို့နယ်၊ လူနေရပ်ကွက်အမှတ် ဆိုက်မှ ၉၃

မြေတိုင်းရပ်ကွက်အမှတ် ၉၃ (၂) မှ မြေကွက်အမှတ် ၂၀၅ ၏

မြေပုံ -

၁ လက်မလျှင် ၁၀၀ ပေစကေး




## ရည်ညွှန်းချက်

ရေိယာ

စတုရန်းပေ ၄၉၀၀

ဧက ၀.၉၄၉

ပုံကူးစာရေး

မြေတိုင်း (၁)

မြေတိုင်း (၂)

ဦးစီးအရာရှိ
မြေတိုင်းဌာနခွဲ
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

လှိုင်သာယာ၊ စက်မှုဇုံ (၂)၊ အကွက်-၂၀၇

စက်ရုံ



လှိုင်သာယာ၊ စက်မှုဇုံ(၂)၊ အကွက်-၂၀၅

ရုံး ခန်း



လှိုင်သာယာ၊ စက်မှုဇုံ(၄)၊ အကွက်-၂၂

စက်ရုံ



**ASIA WEALTH BANK LIMITED**
အာရှဓနဘဏ်လီမိတက်
亚洲经济银行

Letter No. 44/1998-1999.

To

U Myo Khin (a) Myo Hein

357, Pyitharyar St 16/3 Qr.

Thingangyun Tsp.

Dear Sir,

"Balance Confirmation Certificate"

We confirm that the balance standing at the Credit/Debit of your Account 7125894 of Lanmadaw at the close of business on (13 JUL 1999) is (K 5100000/-) Kyats fifty one lakh only. ~~only~~

Yours faithfully,

(Manager)

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE LABEL နှစ်ဆယ်ကျပ် TWENTY KYATS

# မြေငှားစာချုပ်

- 9 OCT 1997

၁၉ ၉၇ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် ၀၀.၁၁.၃၁/ [illegible] အရ ထုတ်ပေးသည်။ ၁၄-၁၀-၉၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်ကေားရပ်တွင်မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ဂန်ကျွန်း မြို့နေ၊ ဦး မောင်သန်း ၏၊ သား/သမီး ဖြစ်သော

ဦး တင်အောင်ဝင်း အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကမတ(နိုင်)၀၁၂၁၆၀၇ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၅၉ ခုနှစ်၊ သီတင်းကျွတ် လဆန်း/လပြည့်ကျော် ၈ ရက်နေ့၊ ၁၉ ၉၇ ခုနှစ်၊

( အောက်တိုဘာ လ ၉ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကိုနှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၉-၁၀-၁၉၉၇ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် အောက်တိုဘာ လ ၈ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၁၈/- ပြား ( ကျပ် နှစ်ရာတစ်ဆယ့်ရှစ် ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလအပိုင်းအခြား၏ ဒုတိယတစ်ဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃–တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE LABEL

- 9 OCT 1997

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့် အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်းတစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အပယ်တွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) (၂၀၁၂ )ခုနှစ်၊ အောက်တိုဘာ လ၊ ( ၈ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ရန်ကုန်မြို့တော် | အိုးအိမ်ပုံစံ
အကျိတ် - ၂၂

[illegible] မြို့နယ် လူနေရပ်ကွက်အမှတ် [illegible]
မြေတိုင်းရပ်ကွက်အမှတ် [illegible] မှ မြေကွက်အမှတ် ၂၂ ၏ မြေပုံ

၁-လက်မလျှင် ၁၀၀ ပေစကေး




ရည်ညွှန်းချက်

..................................................ဝိုယာ | စတုရန်းပေ ၄၃၅၆၀
ဧက ၁.၀၀၃

မြေတိုင်း(၄) | မြေတိုင်း(၃) | မြေတိုင်း(၂)

ဦးစီးအရာရှိ
မြေတိုင်းဌာနခွဲ
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

# မြေငှားစာချုပ်

၁၉၉၄ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် [illegible] အရ၊ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။)

[illegible] မြို့နေ၊ ဦး [illegible] ၏၊ သား/သမီး ဖြစ်သော

ဦး [illegible] အမျိုးသားမှတ်ပုံတင်အမှတ် [illegible] (နောက်တွင် "အငှား စာချုပ်ရသူ" ဟုရည်ညွှန်းသည်) တို့၊ ၁၃ ၅၇ ခုနှစ်၊ တပို့တွဲ လဆန်း/လပြည့်ကျော် ၇ ရက်နေ့၊ ၁၉ ၉၆ ခုနှစ်၊

(ဇန်နဝါရီ လ ၂၆ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို လိုက်နာမည်ဖြစ်သောကြောင့် လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ် မြေအောက်ရှိ သတ္တုတွင်းများ၊ သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်တွင်း (Quarries) စသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်းတွင် မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို ထိခိုက်ပျက်စီးစေခဲ့လျှင် အငှားစာချုပ်ရသူအား သင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၂၆. ၁. ၁၉၉၄ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အထွက်လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၁ ခုနှစ် ဇန်နဝါရီ လ [illegible] ရက်နေ့၌ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် [illegible] ပြား [illegible] ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ထိုနည်းအတိုင်း ပေးဆောင်ရမည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ဖျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) (၂၀၁၁ )ခုနှစ်၊ ဇန်နဝါရီ လ၊ ( ၂၅ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄–အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

## ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ
အကျစ် – ၂၂

...လှိုင်သာယာ... မြို့နယ်၊ လူနေရပ်ကွက်အမှတ် ...စက်မှုဇုန်...

မြေတိုင်းရပ်ကွက်အမှတ် ...ဇုန် (၂)... မှ မြေကွက်အမှတ် ...၂၀၅... ၏

မြေပုံ –

၁ လက်မလျှင် ၁၀၀ ပေသကေး




## ရည်ညွှန်းချက်

............ ဧရိယာ

စတုရန်းပေ ...၂၈၀၀၀...

ဧက ...၀.၆၄၃...

ပုံကူးတဲ့ရေး

မြေတိုင်း (၃)

မြေတိုင်း (၂)

ဦးစိုး[illegible]

မြေတိုင်းဌာနခွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

# အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၆၂၅...... /၁၉၉၆ –၁၉၉၇

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ခိုင်ဆုသူ အင်ဒတ်စထရီရယ် (သီ)

ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၇ ခုနှစ်၊ ဇန်နဝါရီ လ ၂ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

(သိန်းတင်)
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ကုန်[illegible]အဆောက်လုပ်ရေး
INDUSTRIAL/PR[illegible] CONSTRUCTION

## THE GOVERNMENT OF THE UNION OF MYANMAR
## MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

**No.** 1625 **of 19**96 **- 19**97

*I hereby certify that* KHAING SU THU INDUSTRIAL COMPANY LIMITED *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* SECOND *day of* JANUARY *one thousand nine hundred and* NINETY SEVEN

စက်ရုံအလုပ်ရုံတည်ဆောက်ရန် [illegible]
[illegible] (သို့မဟုတ်)
[illegible]
[illegible]။

( [illegible] )
Registrar of Joint Stock Companies
Companies Registration Office

ခိုင်ဆုသူ အင်ဒတ်စထရီရယ်(လ်) ကုမ္ပဏီလီမိတက်

**KHAING SU THU INDUSTRIAL COMPANY LIMITED**

KST

No.357, Pyitharyar Street,
16/3 Quarter, Thingangyun Township,
Yangon., Myanmar.
☎ (01) 572708, (09) 26961

Block No.205, Zone 2,
Hlaing Thayar Industrial Zone,
Yangon, Myanmar.
☎ (01) 681935

## ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၉-၇-၉၉
ကျင်းပသည့်အချိန် ။ ။ နံနက် (၁၁:၀၀) နာရီ
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံး အစည်းအဝေးခန်းမ၊

**အစည်းအဝေးတက်ရောက်သူများ**

၁။ ဦးမျိုးခင် (ခ) ဦးမျိုးဟိန်း - အုပ်ချုပ်မှုဒါရိုက်တာ
၂။ ဦးတင်အောင်ဝင်း - ဒါရိုက်တာ
၃။ ဒေါ်နွယ်နီမိုး - ဒါရိုက်တာ
၄။ ဒေါ်သူဇာမင်း - ဒါရိုက်တာ

**အစည်းအဝေးဆုံးဖြတ်ချက်**

၁။ ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သော ဦးမျိုးခင်(ခ) ဦးမျိုးဟိန်းက သဘာပတိအဖြစ် ဆောင်ရွက်၍ ကုမ္ပဏီ၏ လုပ်ငန်းရပ်များနှင့်ပတ်သက်၍ ဆွေးနွေးပြောကြားပါသည်။ သစ်အခြေခံစက်မှုလုပ်ငန်းတည်ထောင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည်ဖြစ်ရာ "ခိုင်ဆုသူစက်မှုကုမ္ပဏီလီမိတက်" အမည်ဖြင့် သီးခြားလုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ပြောကြားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန် ဆွေးနွေး၍ အောက်ပါအတိုင်း သဘောတူဆုံးဖြတ်ကြပါသည်။

(က) "ခိုင်ဆုသူစက်မှုကုမ္ပဏီလီမိတက်" အား "ခိုင်ဆုသူကုမ္ပဏီလီမိတက်"၏ လက်အောက်ခံကုမ္ပဏီတစ်ခုအဖြစ် ထားရှိရန်နှင့် ယင်းကုမ္ပဏီအမည်ဖြင့်ပင် လှိုင်သာယာစက်မှုဇုံတွင် သစ်အချောထည်နှင့် ပရိဘောဂစက်မှုလုပ်ငန်း တည်ထောင်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန်၊

(ခ) "ခိုင်ဆုသူစက်မှုကုမ္ပဏီလီမိတက်" တွင် "ခိုင်ဆုသူကုမ္ပဏီလီမိတက်" မှ အစုရှယ်ယာဝင်များနှင့် ဒါရိုက်တာများ ဆက်လက်ပါဝင်ဆောင်ရွက်ရန်၊

(ဂ) ခိုင်ဆုသူ စက်မှုကုမ္ပဏီ လီမိတက် ၏ မ,တည်ရင်းနှီးငွေများကို "ခိုင်ဆုသူကုမ္ပဏီလီမိတက်" မှပင် တာဝန် ယူဆောင်ရွက်ရန်၊

အထက်ပါအတိုင်းဆွေးနွေးဆုံးဖြတ်ကြပြီးအစည်းအဝေးကို မွန်းလွဲပိုင်းတွင်ရုတ်သိမ်းလိုက် ပါသည်။

မှတ်တမ်းတင်သူ

ဦးမျိုးခင် (ခ) ဦးမျိုးဟိန်း
အုပ်ချုပ်မှုဒါရိုက်တာ
ခိုင်ဆုသူကုမ္ပဏီလီမိတက်

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : KHAING SU THU INDUSTRIAL CO,LTD

Presented by : U Myo Khin (MD)

| | The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Myo Khin | Myanmar 7/ Pa Ma Na (Nsing)100577 | No.34/36,ShweboonthaStreet, Pabedan Township,Yangon. | Merchant | Appointed as Managing Director w.e.f 1.6.98 |
| 2. | U Tin Aung Win | Myanmar 12/ Ka Ta Ta (Naing)021607 | No.3,Corner of Maggin Street, & Moe Kaung Street,Yankin Township,Yangon. | Merchant | Appointed as Director w.e.f 1.6.98 |
| 3. | Daw Nwe Ni Moe | Myanmar 14/ Ma Tha Na (Naing)042727 | No.3,Corner of Maggin Street, & Moe Kaung Street,Yankin Township,Yangon. | Merchant | Appointed as Director w.e.f 1.6.98 |
| 4. | U Lin Tong Hua | Myanmar H/RGN - 034370 | No.14,13th Street , Lanmadaw Township, Yangon. | Merchant | Appointed as Director w.e.f 1.6.98 |
| 5. | Daw Thu Zar Minn | Myanmar 12/ Tha Ga Ka (Naing)023563 | No.34/36,Shweboontha Street,Pabedan Township,Yangon. | Merchant | Appointed as Director w.e.f 1.6.98 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes"by placing against the new Director's name the word "in place of ................................." and by writing against any former Director's name the word "dead" "resigned"or as the case may be giving the date of change against the entry.

Dated this ... ... ... ... ...1.6.98.. ...

Signature ... ... ... ... ... ...

Designation ... ... ... ... U Myo Khin

Director

Khaing Su Thu [illegible] Co, Ltd